| စဉ် | ပစ္စည်းအမျိုးအမည် | Unit | MIC စာအုပ်ပါ အရေအတွက် | BQ တွင် ပါဝင်သော အရေအတွက် | ထောက်ခံ တင်ပြသော အရေ အတွက် |
|---|---|---|---|---|---|
| (က) | Rebar | Ton | ၂၇,၆၀၀ | ၃၈,၆၉၂ | ၂၃,၁၀၂ |
| (ခ) | Structural Steel | Ton | ၂,၀၅၅ | ၁၅,၁၅၆ | ၂,၀၅၅ |
| (ဂ) | Template | Sheet | ၁၄၀,၀၀၀ | ၁၄၀,၀၈၃ | ၅၁,၇၂၇ |
| (ဃ) | Scaffolding Steel Pipe | Ton | ၁,၈၀၀ | ၁,၈၀၃.၃ | ၁,၈၀၀ |
| (င) | Emulsion paint | Gal | ၄၃,၄၅၂ | ၁၀၅,၈၆၄ | ၄၃,၄၅၂ |
| (စ) | Antirust Paint | L | ၃,၅၀၀ | ၃,၅၉၆.၄ | ၇၀၈ |
| (ဆ) | Anticorrosive Paint | L | ၂,၆၀၀ | ၂,၆၃၃.၄ | ၂,၀၂၅ |
| (ဇ) | Glass | $m^2$ | ၂၀,၀၀၀ | ၂၀,၀၀၀ | ၂၀,၀၀၀ |
| (ဈ) | Parquet | $m^2$ | ၅၂,၀၀၀ | ၅၅,၀၅၅.၇ | ၅၂,၀၀၀ |
| (ည) | Tile | $m^2$ | ၁၈၈,၀၀၀ | ၁၁၆,၃၃၂ | ၁၁၆,၃၃၂ |
| (ဋ) | Aluminum alloy window | $m^2$ | ၂၇,၂၁၆ | ၈၄,၄၄၅ | ၂၇,၂၁၆ |
| (ဌ) | High Quality Wood Door | $m^2$ | ၅,၁၇၂ | ၈,၄၀၄ | ၅,၁၇၂ |
| (ဍ) | Bending Machine | Unit | ၄ | - | ၃ |
| (ဎ) | Steel Bar Straightening Machine | Unit | ၄ | - | ၃ |
| (ဏ) | Steel Bar Cutting Machine | Unit | ၄ | - | ၃ |
| (တ) | Welding Machine | Unit | ၂၀ | - | ၁၅ |
| (ထ) | Air Compressor | Unit | ၁၀ | - | ၈ |
| (ဒ) | Intercom | Unit | ၈၀ | - | ၇၀ |

(၃) ကုမ္ပဏီ၏ River View Project သည် လှိုင်မြစ်ကမ်းနံဘေးတွင် တည်ရှိသဖြင့် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်၏ ညွှန်ကြားချက်များနှင့်အညီ တည်ဆောက်မည်ဆိုပါက ကန့်ကွက်ရန် မရှိပါကြောင်း။

(၄) အဆောက်အဦ၏ Electrical, Water & Sanitation နှင့် Air-con System ကို စိစစ်ခဲ့ရာ လက်ခံနိုင်ကြောင်း။

(၅) သက်ဆိုင်ရာမီးသတ်ဦးစီးဌာနမှချမှတ်ထားသော လမ်းညွှန်ချက်များအတိုင်းလိုက်နာဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန် မရှိပါကြောင်း။

**( မှတ်ချက်။ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းမှ ထောက်ခံတင်ပြထားသည့် ပြည်ပမှ တင်သွင်းမည့် ဆောက်လုပ်ရေးလုပ်ငန်းသုံး ပစ္စည်းများနှင့် အရေအတွက်များအတိုင်း ပြင်ဆင်ပြီးဖြစ်ကြောင်း ကုမ္ပဏီမှ ၂၀၁၅ခုနှစ် ဒီဇင်ဘာ လ ၉ ရက်နေ့ဖြင့် တင်ပြပြီးဖြစ်ပါသည်။)**

၁၁။ နိုင်ငံခြားငွေ အထောက်အထားအဖြစ် Southern Metal Industry Co., Ltd.အမည်ဖြင့် Myanma Foreign Trade Bank ၌ (၃၀-၉-၂၀၁၄)နေ့စွဲရှိ ငွေလက်ကျန် US$(၂၀၅၃၅၂.၅၁) နှင့် Myanma Investment and Commercial Bank ၌ (၃၀-၉- ၂၀၁၄)နေ့စွဲရှိ ငွေလက်ကျန်

US$(၁၅၄၉၅၉.၁၈)ရှိကြောင်း နှင့် Southern Metal Industry Real Estate Development Co., Ltd. အမည်ဖြင့် CB Bank ၌ (၇-၇-၂၀၁၅)နေ့စွဲရှိ ငွေလက်ကျန် US$(၁.၀၀)သန်း ရှိကြောင်း တင်ပြ ထားပါသည်။ ကျပ်ငွေ အထောက်အထား တင်ပြထားခြင်း မရှိပါ။

၁၂။ ကုမ္ပဏီမှ လုပ်ငန်းဆောင်ရွက်ရာတွင် သုံးစွဲမည့် လျှပ်စစ်ဓါတ်အားမှာ (၄၀၀၀)KVA ဖြစ်ပြီး လျှပ်စစ်ဓါတ်အားပေးရေးအဖွဲ့မှ ဓါတ်အားမရရှိပါက ကိုယ်ပိုင် Generator များဖြင့် ထည့်သွင်း အသုံးပြုရန် စီစဥ်ထားကြောင်း တင်ပြထားပါသည်။ မီးဘေးကြိုတင်ကာကွယ်မှု အစီအစဥ်အဖြင့် မီးသတ်ဦးစီးဌာနမှ သတ်မှတ်ထားသော စည်းမျဥ်း စည်းကမ်းများတိုင်း လိုက်နာ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၁၃။ လုပ်ငန်းခွင် သာယာရေးနှင့် ဝန်ထမ်းများ သက်သာ ချောင်ချိရေး အစီအစဥ်၊ မီးဘေး ကြိုတင် ကာကွယ်ရေး အစီအစဥ်များ တင်ပြထားပါသည်။

၁၄။ Southern Metal Industry Real Estate Development Co., Ltd. မှ ဝန်ထမ်းသက်သာ ချောင်ချိရေး အစီအစဥ်၊ ပတ်ဝန်းကျင် ထိန်းသိမ်းကာကွယ်မှု အစီအစဥ်နှင့် Corporate Social Responsibility အဖြစ် လုပ်ငန်း၏ နှစ်စဥ် အသားတင်အမြတ်ငွေ၏ ၂ % ကို လူမှုရေး လုပ်ငန်းများ တွင် သုံးစွဲဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း ပူးတွဲ တင်ပြထားပါသည်။

၁၅။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစား ခွင့်ပြုပါရန် တင်ပြထားပါသည်။

၁၆။ **စိစစ်တင်ပြချက်**

(က) အဆိုပြုလုပ်ငန်း၏ မြေနေရာ နှင့်ပတ်သက်၍ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့မှ လုပ်ငန်း ဆောင်ရွက်မည့် မြေနေရာအား ခွင့်မပြုသေးပါသဖြင့် ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့မှ ခွင့်ပြုပြီးမှသာ ဆက်လက် တင်ပြနိုင်ပါကြောင်း နှင့် အဆိုပြုချက်အား ပြန်လည် ပေးပို့ထားခဲ့ပြီး ၁-၁၀-၂၀၁၅ နေ့တွင် ကုမ္ပဏီမှ ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့၏ မြေနေရာ ခွင့်ပြုကြောင်း အထောက်အထားနှင့်အတူ ပြန်လည် တင်ပြ လာခြင်း ဖြစ်ပါသည်။

(ခ) အဆိုပြုလုပ်ငန်းတွင် တည်ဆောက်မည့် အဆောက်အဦ အရေအတွက်နှင့် အထပ် အမြင့်မှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| **စဥ်** | **အထပ်အမြင့်** | **အရေအတွက်** | **အခန်းအရေအတွက်** |
|---|---|---|---|
| ၁ | 32 Storey Building | ၉ လုံး | ၂၇၂ |
| ၂ | 8 Storey Building | ၁၅ လုံး | ၁၃၄၄ |
| ၃ | 6 Storey Building | ၉ လုံး | ၁၀၈ |
| | | **စုစုပေါင်း** | **၁၇၂၄** |

(ဂ) Car Parking ထားရှိမှု အခြေအနေမှာ ၂၁၅၁ စီး ထားရှိနိုင်မည်ဖြစ်ကြောင်း တင်ပြ ထားပါသည်။

(ဃ) မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းမှ ကုမ္ပဏီ၏ River View Project သည် လှိုင် မြစ်ကမ်းနဘေးတွင် တည်ရှိသဖြင့် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်၏ ညွှန်ကြားချက်များ

နှင့်အညီ တည်ဆောက်မည်ဆိုပါက ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားထားပြီး ကုမ္ပဏီမှ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်၏ ညွှန်ကြားချက်များအတိုင်း ဆောင်ရွက်ထားပါကြောင်း တင်ပြထားပါသည်။

(c) Corporate Social Responsibility အဖြစ် လုပ်ငန်း၏ နှစ်စဉ် အသားတင်အမြတ် ငွေ၏ ၂ % ကို လူမှုရေး လုပ်ငန်းများ တွင် သုံးစွဲဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း တင်ပြထားပါသည်။

(စ) အထပ်မြင့် အဆောက်အအုံ တည်ဆောက်ရေး စီမံကိန်းများ ကြီးကြပ် စစ်ဆေးရေး ပညာရှင် အဖွဲ့ (CQHP)မှ အကြံပြုချက်တွင် YCDC မှ သတ်မှတ်ထားသော Road Building Ratio နှင့် Set Back နှင့်အညီ ဆောင်ရွက်ရန် ဟု ပြန်ကြားထားပြီး YCDC မှ သတ်မှတ် စံနှုန်းများနှင့်ကိုက်ညီမှု ရှိကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၇။ သို့ဖြစ်ပါ၍ Southern Metal Industry Real Estate Development Co., Ltd. မှ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ဘုရင့်နောင်တံတားနှင့် အောင်ဇေယျတံတားကြား ၊ မြေတိုင်း ရပ်ကွက် အမှတ်(၇/A)၊ မြေကွက်အမှတ် (၂-B) ရှိ မြေ (၁၀.၀၀)ဧက တွင် Construction, Leasing and Management of Commercial and Residential Buildings လုပ်ငန်းအား တင်ပြလာခြင်းအပေါ် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ/မျှောစာတွဲ

# ကုမ္ပဏီဒါရိုက်တာနှင့်အစုရှင်များ၏ နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/အစုရှင်များ၏ အမည် | ဒါရိုက်တာ/အစုရှင်များ၏ ဆက်သွယ်ရန်လိပ်စာ |
|---|---|---|---|
| ၁။ | Southern Metal Industry Real Estate Development Co., Ltd. | (၁)Uni Global Power Investments Pte Ltd. (Represent By) Mr. Zhu Xiaolin China E23603373 | 2-7-301, Yindu Garden, No.8 Xinguang Road, Chengdu, Sichuan Province, China. |
| | | (၂)U Zaw Tun Aung Myanmar 12/Ah Sa Na(N)024117 | No.(O-191), Ngwe Hnin Phyu Thit Kwa Street, FMI City, Hlaing Thar Yar Township, Yangon. |
| | | (၃)U Phyu Kyain Myanmar 9/Ma Ya Na(N)058075 | No.(J-9), Lay Htaut Kan Road, Thinkankyun Township, Yangon. |

၁။ ဆက်သွယ်ရမည့်တယ်လီဖုန်းနံပါတ်၊ဖက်စ်နံပါတ် - ၀၉-၂၅၃၁၁၂၂၆၉

၂။ ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ -

၃။ ဆက်သွယ်ရမည့်ပုဂ္ဂိုလ်အမည်၊ရာထူး - ဒေါ်ခင်သန်းဦး

၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ - Construction, Leasing and Management of Commercial and Residential Buildings လုပ်ငန်း

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်/နေ့စွဲ -

၆။ ကုမ္ပဏီမှတ်ပုံတင် သက်တမ်းကုန်ဆုံးသည့်နေ့စွဲ -

၇။ ဘဏ်အမည်နှင့်ဘဏ်စာရင်းအမှတ် -

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ (၄၃) / သစ်စွမ်း
ရက် စွဲ၊ ၂၀၁၅ ခုနှစ်၊ ဇူလိုင် လ ၂၀ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၉. ၁၁. ၂၀၁၄ ရက်စွဲပါစာအမှတ်၊ ရက - ၄/ န-၀၀၉ / ၂၀၁၄ (၃၈၂)

(၂) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၅. ၁၂. ၂၀၁၄ ရက်စွဲပါစာအမှတ်၊ ရက - ၄/ န-၀၀၉ / ၂၀၁၄ (၅၀၁)

၁။ မြန်မာနိုင်ငံ Southern Metal Industry Co., Ltd. မှ ၄၃%နှင့် စင်ကာပူနိုင်ငံ Uni Global Power Investments Pte Ltd မှ ၅၇% အချိုးထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Southern Metal Industry Real Estate Development Co., Ltd. တည်ထောင်ကာ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ဘုရင့်နောင်တံတားနှင့် အောင်ဇေယျတံတားကြား၊ မြေတိုင်းရပ်ကွက်အမှတ်(၇/က)၊ မြေကွက်အမှတ်(၂)ရှိ စုစုပေါင်း မြေ(၃၀. ၉၀၇)ဧကအနက် ဧရိယာ(၁၀. ၀၀)ဧကတွင် Construction and Development of Commercial and Residential တည်ဆောက်၍ အခန်းများငှားရမ်းခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်း(၁)နှင့်(၂)ပါစာတို့ဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာခြင်းနှင့်ပတ်သက်၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါ။

(ခ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက တည်ဆောက်ရေးကာလတွင် ပြည်တွင်းလုပ်သားအင်အား(၆၃၂)ဦး၊ လုပ်ငန်းလည်ပတ်ချိန်တွင် ပြည်တွင်းလုပ်သားအင်အား (၁၅၀)ဦးတို့ အလုပ်အကိုင်ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု အတွက် အထောက်အကူဖြစ်စေပါသည်။

(ဂ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ဘုရင့်နောင်တံတားနှင့် အောင်ဇေယျတံတားကြား၊ မြေတိုင်းရပ်ကွက်အမှတ်(၇/က)၊ မြေကွက်အမှတ်(၂)၊ စုစုပေါင်း မြေ(၃၀. ၉၀၇)ဧကအနက် ဧရိယာ(၁၀. ၀၀)ဧကရှိ မြေလွတ်ကို မြေတစ်စတုရန်းမီတာလျှင် တစ်နှစ်အတွက် USD 5.3 နှုန်းဖြင့် (၅၀)နှစ်+(၁၀)နှစ်+(၁၀)နှစ် ငှားရမ်းလုပ်ကိုင်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါသည်။

D/2015/Cabinet/33.,(1)

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါသည်။

၂။ အထက်ဖော်ပြပါအချက်များကြောင့် (၁၆. ၇. ၂၀၁၅)ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၃၃/၂၀၁၅)၊ ဆုံးဖြတ်ချက်အပိုဒ် (၂၉)အရ Southern Metal Industry Real Estate Development Co., Ltd. ၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးသစ်တောနှင့်စွမ်းအင်ဝန်ကြီး
ရန်ကုန်မြောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
လှိုင်သာယာမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Southern Metal Industry Real Estate Development Co., Ltd.
လက်ခံစာတွဲ
မျှောစာတွဲ

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**တိုင်းဒေသကြီးအစိုးရအဖွဲ့**
**ရန်ကုန်တိုင်းဒေသကြီး**

စာအမှတ်၊ ၄/၈ - ၂ (၁)/စည်ပင်
ရက်စွဲ၊ ၂၀၁၅ ခုနှစ် နိုဝင်ဘာလ ၁၉ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **လှိုင်သာယာမြို့နယ်၊ ဘုရင့်နောင်တံတားနှင့် အောင်ဇေယျာတံတားကြား မြေတိုင်းရပ်ကွက်အမှတ်(၇/က)၊ မြေကွက်အမှတ်(၂)တွင် အဆောက်အဦများ ဆောက်လုပ်ရန် သဘောထားမှတ်ချက်တောင်းခံသည့်ကိစ္စ**

ရည်ညွှန်းချက်။ ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ၏ ၁၂.၁၁.၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ၁၀၉/၀၁(၄၆၁၂)/စသက

၁။ လှိုင်သာယာမြို့နယ်၊ ဘုရင့်နောင်တံတားနှင့် အောင်ဇေယျာတံတားကြား မြေတိုင်းရပ်ကွက် အမှတ်(၇/က)၊ မြေကွက်အမှတ်(၂)ရှိ စုစုပေါင်းမြေ (၃၀.၉၀၇)ဧကအနက် ဧရိယာ(၁၀.၀၀)ဧကပေါ်တွင် မြန်မာနိုင်ငံ Southern Metal Industry Co.,Ltd နှင့် စင်္ကာပူနိုင်ငံ Uni Global Power Investments Pte Ltd. မှ အချိုးကျထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Southern Metal Industry Real Estate Development Co.Ltd တည်ထောင်၍ Construction and Development of Commercial and Residential များတည်ဆောက်၍ အခန်းများ ငှားရမ်းခြင်း ဆောင်ရွက်ခြင်းပြုပါရန် အဆိုပြုတင်ပြလာခြင်းနှင့်ပတ်သက်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီသို့ သဘောထားမှတ်ချက်တောင်းခံခဲ့ပါသည်။

၂။ အဆိုပြုနေရာသည် ရွှေတိဂုံဘုရားကန့်သတ်ဧရိယာပြင်ပတွင် ကျရောက်လျက်ရှိကြောင်း၊ အမြင့်ဆုံး အဆောက်အဦများမှာ အပြင့်ပေကိုက်ညီမှုရှိပြီး ကားထားရန် သတ်မှတ်ချက်များ ကိုက်ညီမှုရှိကြောင်းနှင့် အဆိုပြုအဆောက်အဦသည် စည်ပင်သာယာ By Law များနှင့် ကိုက်ညီမှုရှိကြောင်း ရန်ကုန်မြို့တော် စည်ပင်သာယာရေးကော်မတီမှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ သဘောထား ပြန်ကြားစာအား ရည်ညွှန်းပါစာဖြင့် ဤရုံးသို့ မိတ္တူပေးပို့တင်ပြလာပါသည်။

၃။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ ၎င်းအဆောက်အဦများ တည်ဆောက်ငှားရမ်းဆောင်ရွက်ခွင့်ကိစ္စအား ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီသို့ တိုက်ရိုက်သဘောထားတောင်းခံအကြောင်းကြားမည့်အစား ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့သို့ အကြောင်းကြားသင့်ကြောင်း၊ တိုင်းဒေသကြီးအစိုးရအဖွဲ့မှ အစိုးရအဖွဲ့ အစည်းအဝေးဆောက်ခံချက်ဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ပြန်ကြားမည်ဖြစ်ကြောင်း သိရှိနိုင်ပါရန် ညှိနှိုင်းအကြောင်းကြားအပ်ပါသည်။

ဝန်ကြီးချုပ်(ကိုယ်စား)

(သန်းမြင့်၊ တိုင်းဒေသကြီးစီမံကိန်းနှင့်စီးပွားရေးဝန်ကြီး)

မိတ္တူ။

ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ

လက်ခံစာတွဲ

မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ် ၂/၂၂၀(ခ)(ဖ)/( ၉၁၈၂ /၂၀၁၄)
ရက်စွဲ ၂၀၁၄ခုနှစ်၊ဒီဇင်ဘာလ ၉ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ Southern Metal Industry Real Estate Development Co., Ltd.မှ Construction and Development of Commercial and Residential တည်ဆောက်၍ အခန်းများငှားရမ်းခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် ကိစ္စနှင့် စပ်လျဉ်း၍ သဘောထားမှတ်ချက်တင်ပြခြင်း

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၉-၁၁-၂၀၁၄ ရက်စွဲပါစာအမှတ်၊ ရက-၄/န-၀၀၉/၂၀၁၄(၃၈၃)

၁။ Southern Metal Industry Real Estate Development Co., Ltd. သည် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ဘုရင့်နောင်ကံတားနှင့် အောင်ဇေယျတံတားကြား၊ မြေတိုင်းရပ်ကွက် အမှတ်(၇/က)၊ မြေကွက်အမှတ် (၂) ရှိ စုစုပေါင်းမြေ (၃၀.၉၀၇) ဧကအနက် ဧရိယာ(၁၀.၀၀)ဧကတွင် ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Construction and Development of Commercial and Residential တည်ဆောက်၍ အခန်းများ ငှားရမ်းခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် ကိစ္စနှင့်ပတ်သက်၍ စိစစ်ပြီး ဌာနဆိုင်ရာ သဘောထားမှတ်ချက်ကို ပြန်ကြားအပ်ပါသည်။

၂။ စီမံကိန်း အဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံလိုသူ၏ အဆိုပြုချက် ၊ ကုန်ကြမ်းပစ္စည်းစာရင်း၊ ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း ( Environmental Impact Assessment - EIA ) ဆောင်ရွက်မည်ဖြစ်ကြောင်း ၊ ဝန်ထမ်းများသက်သာချောင်ချိရေးနှင့် သာယာပျော်ရွှင်ရေးစီမံချက်၊ ဘဏ္ဍာရေးနှင့်ပတ်သက်၍ တွက်ချက်ထားမှုများ ၊ မီးဘေးကာကွယ်ရေး အစီအမံများ ပူးတွဲပါရှိပြီး ရင်းနှီးမြှုပ်နှံမှုကာလမှာ (၇၀)နှစ်ဆောင်ရွက်မည်ဖြစ်ကြောင်း၊ တည်ဆောက်ရေး ကာလမှာ ၂၀၁၅ ခုနှစ် မှ ၂၀၁၉ ခုနှစ်အထိ (၄)နှစ်ဖြစ်ကြောင်း ဖော်ပြထားသည်ကို စိစစ်တွေ့ရှိရပါသည်။

၃။ Southern Metal Industry Real Estate Development Co., Ltd. မှ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Construction and Development of Commercial and Residential တည်ဆောက်၍ အခန်းများ ငှားရမ်းခြင်း လုပ်ငန်းဆောင်ရွက်ရာတွင် မြေပြုပြင်ခြင်း၊ တည်ဆောက်ရေး လုပ်ငန်းသုံးပစ္စည်းများ နှင့် လုပ်သားများ၏ domestic waste များကြောင့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ဖြစ်ပေါ်နိုင်ခြင်း ၊ လုပ်ငန်းသုံးစက် နှင့် ယာဉ်ယန္တရားများကြောင့် အသံဆူညံမှုဖြစ်ပေါ်နိုင်ခြင်း၊ လုပ်ငန်း လည်ပတ်ချိန်တွင် စွန့်ပစ်ရေ၊ စွန့်ပစ်ပစ္စည်းများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်း မဖြစ်ပေါ်နိုင်ကြောင်း စိစစ်တွေ့ရှိရပါသည်။

၅။ သို့ဖြစ်ပါ၍ Southern Metal Real Estate Development Co., Ltd. မှ Construction and Development of Commercial and Residential တည်ဆောက်၍ အခန်းများ ငှားရမ်းခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် အဆိုပြုတင်ပြလာခြင်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) တည်ဆောက်ရေးကာလ နှင့် လုပ်ငန်းဆောင်ရွက်စဉ် ကာလအတွင်း ထွက်ရှိလာမည့် တည်ဆောက်ရေးလုပ်ငန်းသုံး စွန့်ပစ်ပစ္စည်း၊ ထွက်ရှိလာမည့် စွန့်ပစ်ရေများကြောင့် ပတ်ဝန်းကျင် ညစ်ညမ်းမှုမရှိစေရေးအတွက် ကောင်းမွန်သော စွန့်ပစ်ပစ္စည်းသန့်စင် စနစ်ထားရှိရန်နှင့် စွန့်ပစ်အရည်/ပစ္စည်းစီမံခန့်ခွဲမှု အစီအမံများ၊ စီမံချက်များ ရေးဆွဲဆောင်ရွက်ရန်၊

(ခ) လုပ်ငန်းဆောင်ရွက်မည့် လုပ်သားများအား လုပ်ငန်းခွင် လုံခြုံရေး ကိရိယာများ ဝတ်ဆင် အသုံးပြုစေရန်နှင့် လုပ်ငန်းခွင်လုံခြုံရေးစီမံချက်များ စနစ်တကျ ရေးဆွဲထားရှိရန်၊

(ဂ) ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုမရှိစေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေ ရေးတို့အတွက် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) ဆောင်ရွက်ရန်၊

(ဃ) ဆောင်ရွက်ရရှိသည့် အစီရင်ခံစာအရ စွန့်ပစ်ပစ္စည်းများအား စနစ်တကျ စွန့်ပစ်မည့် အစီအစဉ်များ ပါဝင်သည့် စွန့်ပစ်ပစ္စည်း စီမံခန့်ခွဲမှုအစီအစဉ် ၊ စောင့်ကြည့်လေ့လာမည့် အစီအစဉ် ၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည့်တို့ပါဝင်သည့် ပတ်ဝန်းကျင်0 စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan - EMP) ရေးဆွဲတင်ပြရန်နှင့် EMP စီမံချက်တွင် ပါရှိသည့်အတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(င) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ ၊ နည်းဥပဒေ ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များ၊ စံချိန်စံညွှန်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည် ဖော်ဆောင်ရွက်သွားရန်၊

(စ) သက်ဆိုင်ရာတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် ဒေသခံပြည်သူများ၏ဆန္ဒနှင့် သဘောထား များ ရယူဆောင်ရွက်ရန်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( မျိုးညွန့် ၊ ရုံး အ ဖွဲ့ မှူး)

မိတ္တူ -ညွှန်ကြားရေးမှူးချုပ် ၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
-ညွှန်ကြားရေးမှူးချုပ် ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
-ညွှန်ကြားရေးမှူးချုပ် ၊ သစ်တောဦးစီးဌာန

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**ပို့ဆောင်ရေးဝန်ကြီးဌာန**
**ဝန်ကြီးရုံး**

စာအမှတ်၊ ၆၂ - ပဆ/ ခွဲ(၁)(ည) (၁၁/ ၁၆ )
ရက်စွဲ ၊ ၂၀၁၅ ခုနှစ်၊ နိုဝင်ဘာလ ၃ ရက်

**သို့**

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၈-၁၀-၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက-၄ / န - ၀၀၉ / ၂၀၁၅ (၇၈၂)

၁။ မြန်မာနိုင်ငံ Southern Metal Industry Co.,Ltd မှ ၄၃% နှင့် စင်ကာပူနိုင်ငံ Uni Global Power Investments Pte Ltd မှ ၅၇% အချိုးထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Southern Metal Industry Real Estate Development Co., Ltd တည်ထောင်ကာ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ဘုရင့်နောင်တံတားနှင့် အောင်ဇေယျတံတားကြား၊ မြေတိုင်းရပ်ကွက်အမှတ်(၇/က)၊ မြေကွက်အမှတ် (၂)ရှိ စုစုပေါင်း မြေ(၃၀.၉၀၇)ဧကအနက် ဧရိယာ (၁၀.၀၀)ဧကတွင် Construction and Development of Commercial and Residential တည်ဆောက်၍ အခန်းများငှားရမ်းခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာပါသဖြင့် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် မေတ္တာရပ်ခံလာခြင်းဖြစ်ပါသည်။

၂။ Southern Metal Industry Co.,Ltd မှ တည်ဆောက်မည့် စီမံကိန်း Drawing ပုံစံများအား မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ စိစစ်ခဲ့ရာ နောက်ခံမြေပေါ်တွင် အဆောက်အဦများ တည်ဆောက်ခြင်းသာမကဘဲ ရေဘက်မျက်နှာစာ လှိုင်မြစ် အတွင်းတွင်လည်း ရေယာဉ်များ ဆိုက်ကပ်နိုင်သည့် Marine Structure (၁) ခုကိုလည်း ထည့်သွင်း ရေးဆွဲထားသည်ကို စိစစ်တွေ့ရှိရသဖြင့် အသေးစိတ်ပုံစံများကို တောင်းခံခဲ့ရာ ကုမ္ပဏီ အနေဖြင့် နောက်ခံမြေပေါ်တွင်သာ အဆောက်အဦများကို တည်ဆောက်မည်ဖြစ်ပြီး ရေဘက်မျက်နှာစာတွင် Marine Structure တည်ဆောက်မည့်အစီအစဉ် မရှိတော့ပါကြောင်းနှင့် ပြောင်းလဲရေးဆွဲထားသည့် **နောက်ဆက်တွဲ (က)** ပါ စီမံကိန်း Drawing ပုံစံများအား တင်ပြလာပါသည်။

၃။ Southern Metal Industry Co.,Ltd ၏ စီမံကိန်း Drawing ပုံစံများမှာ Architectural Drawing ပုံစံများဖြစ်ပြီး အတိုင်းအတာများ မပါဝင်သောကြောင့် စိစစ်ရန်ခက်ခဲမှုရှိပြီး ကုမ္ပဏီအနေဖြင့် အထပ်မြင့်အဆောက်အဦများကို တည်ဆောက်ရာ၌ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ သတ်မှတ်ထားသော မြေထိန်းနံရံမှ အနည်းဆုံး (၂၅)ကိုက်အတွင်း ဆောက်လုပ်ခြင်းမပြုရန် လိုအပ်မည်ဖြစ်ပါသည်။

၄။ ထို့အပြင် Southern Metal Industry Co.,Ltd ၏ အဆိုပြုထားသော လုပ်ငန်းနေရာသည် လှိုင်မြစ်ကြောင်း၏ မြစ်ဖျောင့်နေရာတွင် တည်ရှိသော်လည်း အထပ်မြင့်အဆောက်အဦများ၊ လုံးချင်းအိမ်ယာများတည်ဆောက်မည်ဖြစ်၍ ကမ်းထိန်းလုပ်ငန်းကိုပါ ထည့်သွင်းတည်ဆောက်သွားရန် လိုအပ်မည်ဖြစ်ပြီး ကမ်းနားနယ် ပေ(၁၅၀)အတွင်း အဆောက်အဦးများဆောက်လုပ်ခြင်းမပြုရန်နှင့် ဆောက်လုပ်မည်ဆိုပါက ရေအရင်းအမြစ်နှင့် မြစ်ချောင်းများ ဖွံ့ဖြိုးတိုးတက်ရေး ဦးစီးဌာန၏ ခွင့်ပြုချက် ရယူရန် လိုအပ်မည်ဖြစ်ပါသည်။ ထို့အပြင် မြစ်ကြောင်းအတွင်း Marine Structure တည်ဆောက်မည့် အစီအစဉ်မရှိကြောင်း ဖော်ပြထားသော်လည်း နောင်ဆောက်လုပ်ရန် အစီအစဉ်ရှိပါက ရေအရင်းအမြစ်နှင့် မြစ်ချောင်းများ ဖွံ့ဖြိုးတိုးတက်ရေးဦးစီးဌာန၏ ခွင့်ပြုချက် တောင်းခံရန် လိုအပ်မည်ဖြစ်ပါသည်။

၅။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံ Southern Metal Industry Co.,Ltd မှ ၄၃% နှင့် စင်ကာပူနိုင်ငံ Uni Global Power Investments Pte Ltd မှ ၅၇% အချိုးထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့်ဆောင်ရွက်မည့် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ဘုရင့်နောင်တံတားနှင့် အောင်ဇေယျ တံတားကြား၊ မြေတိုင်းရပ်ကွက် အမှတ်(၇/က)၊ မြေကွက်အမှတ် (၂)ရှိ စုစုပေါင်း မြေ (၃၀.၉၀၇)ဧက အနက် ဧရိယာ (၁၀.၀၀)ဧကတွင် Construction and Development of Commercial and Residential တည်ဆောက်ခြင်းနှင့်ပတ်သက်၍ အထက်အပိုဒ် (၃) နှင့် (၄) ပါ အချက်များအား လိုက်နာရန် လိုအပ်မည် ဖြစ်ပါကြောင်းနှင့် ရေအရင်းအမြစ်နှင့် မြစ်ချောင်းများ ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေနှင့် နောင်ပြဋ္ဌာန်းမည့် ရေဥပဒေအား လိုက်နာဆောက်ရွက်ရန် လိုအပ်မည်ဖြစ်ပါ ကြောင်းပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
သက်ထွန်း - ခေတ္တ အမြဲတမ်းအတွင်းဝန်

မိတ္တူကို -

- ရေအရင်းအမြစ်နှင့်မြစ်ချောင်းများဖွံ့ဖြိုးတိုးတက်ရေးဦးစီးဌာန
- မြန်မာ့ဆိပ်ကမ်းအာဏာပိုင်

SMI

**SOUTHERN METAL INDUSTRY REAL ESTATE DEVELOPMENT COPANY LIMITED**

**Address: No. (7/A) No. (2), Seikkanthar Road, Between Bayint Naung Bridge and Aung Zay Ya Bridge, Hlaing Thar Yar Township, Yangon Myanmar**

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကုန်မြို့။

နေ့စွဲ ။ ။ ၂၀၁၅ ခုနှစ်၊ ဒီဇင်ဘာလ (၁၈)ရက်။

**အကြောင်းအရာ။ ။ ပို့ဆောင်ရေးဝန်ကြီးဌာန၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်၏ သဘောထားမှတ်ချက်အတိုင်း လိုက်နာဆောင်ရွက်ပါမည့်အကြောင်း ကတိခံဝန်ချက်တင်ပြခြင်း။**

ရည်ညွှန်းချက် ။ ။ ပို့ဆောင်ရေးဝန်ကြီးဌာန၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်၏ (၈.၁၀.၂၀၁၅)နေ့ ရက်စွဲပါ စာအမှတ်၊ ဆက/ မြို့ပြ/ Riverview/ ၁၄၅၄/ ၂၀၁၅။

အထက်ရည်ညွှန်းပါစာအရ ကုမ္ပဏီအနေဖြင့် အထပ်မြင့်အဆောက်အဦများကို ဆောက်လုပ်ရာတွင် ပို့ဆောင်ရေးဝန်ကြီးဌာန၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်၏ လမ်းညွှန်ချက်အတိုင်း -

(က) အထပ်မြင့် အဆောက်အဦးနှင့် မြေထိန်းနံရံတို့အား နိုင်ငံတကာစံချိန်စံညွှန်းများနှင့်အညီ ရေးဆွဲထားသည့် ခေတ်မီဒီဇိုင်းများဖြင့် ဆောက်လုပ်ရန်၊

(ခ) အထပ်မြင့် အဆောက်အဦနှင့် မြေထိန်းနံရံတို့၏ Foundation ကို Bore Pile များဖြင့် Structure ခိုင်ခံ့မှုအတွက် အထူးစီမံဆောင်ရွက်ရန်၊

(ဂ) အထပ်မြင့် အဆောက်အဦများကို မြေထိန်းနံရံမှ အနည်းဆုံး (၂၅)ကိုက်အတွင်း ဆောက်လုပ်ခြင်း မပြုရန် တို့ကို လိုက်နာဆောင်ရွက်ပါမည့်အကြောင်း ခံဝန်ကတိပြုပါသည်။

ထို့အပြင် လှိုင်မြစ်အတွင်း၌ ရေဘက်ပိုင်းတွင် Marine Structure တည်ဆောက်ခြင်း လုပ်ငန်းကိုလည်း ဆောင်ရွက်ရန် အစီအစဉ် မရှိပါကြောင်း လည်း ခံဝန်ကတိပြု တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

(signature)

ZHU XIAOLIN

Promoter

SOUTHERN METAL INDUSTRY

REAL ESTATE DEVELOPMENT CO., LTD.

နောက်ဆက်တွဲ-ဃ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ရန်ကုန်တိုင်းဒေသကြီးအစိုးရ
ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ
မြို့တော်ခန်းမ၊ ရန်ကုန်မြို့

စာအမှတ် ၊ ၁၀၉ / ၀၁ ( ၄၆၁၂ ) / စသက
ရက်စွဲ ၊ ၂၀၁၅ ခုနှစ် နိုဝင်ဘာလ ၁၂ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **လှိုင်သာယာမြို့နယ်၊ ဘုရင့်နောင်တံတားနှင့် အောင်ဇေယျတံတားကြား၊ မြေတိုင်းရပ်ကွက် အမှတ်(၇/က)၊ မြေကွက်အမှတ်(၂)တွင် အဆောက်အဦများဆောက်လုပ်ရန် သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၈-၁၀-၂၀၁၅ ရက်စွဲပါ စာအမှတ် ရက-၄/ န-၀၀၉/၂၀၁၅(၇၈၄)

၁။ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ဘုရင့်နောင်တံတားနှင့် အောင်ဇေယျတံတားကြား၊ မြေတိုင်းရပ်ကွက်အမှတ် (၇/က)၊ မြေကွက်အမှတ်(၂)ရှိ စုစုပေါင်း မြေ (၃၀.၉၀၇)ဧကအနက် ဧရိယာ (၁၀.၀၀) ဧကတွင် မြန်မာနိုင်ငံ Southern Metal Industry Co., Ltd. မှ ၄၃% နှင့် စင်္ကာပူနိုင်ငံ Uni Global Power Investments Pte Ltd မှ ၅၇% အချိုးထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Southern Metal Industry Real Estate Development Co., Ltd. တည်ထောင်ကာ Construction and Development of Commercial and Residential တည်ဆောက်၍ အခန်းများငှားရမ်းခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းနှင့်ပတ်သက်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ၏ သဘောထားမှတ်ချက် တောင်းခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ ၂၆-၉-၂၀၁၅ ရက်နေ့တွင်ကျင်းပပြုလုပ်ခဲ့သည့် ပို့ဆောင်ရေးဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီ အစည်းအဝေးအမှတ်စဉ် (၁၆/၂၀၁၅)မှ FMI Garden Development Ltd., နှင့် Southern Metal Industry (SMI) Co., Ltd. တို့၏ River View Project အတွက် မြေထိန်းနံရံနှင့် အထပ်မြင့်အဆောက်အဦများကို မြန်မာ့ဆိပ်ကမ်းအာဏာပိုင်၏လမ်းညွှန်ချက်အတိုင်း လိုက်နာဆောင်ရွက်ရန်နှင့်အထပ်မြင့်အဆောက်အဦများကို မြေထိန်းနံရံမှ အနည်းဆုံး ၂၅ ကိုက်အတွင်း ဆောက်လုပ်ခြင်းမပြုရန် သဘောတူဆုံးဖြတ်ခဲ့ပြီးဖြစ်ကြောင်း သိရှိရပါသည်။

၃။ တင်ပြလာသောပုံစံများအားစိစစ်ရာ ဆောက်လုပ်မည့် အဆောက်အအုံများအတွက် အသေးစိတ်ပုံစံများမပါရှိဘဲ မြေ (၁၀)ဧကတွင် ပင်လယ်ရေမျက်နှာပြင်အထက် အမြင့် ၃၆၅.၈၁′ ရှိ (၃၂)ထပ် ၆လုံး၊ (၃၃)ထပ် ၃လုံး၊ ပင်လယ်ရေမျက်နှာပြင်အထက် အမြင့် ၁၁၉.၀၉′ ရှိ (၈)ထပ် ၁၅လုံး၊ ပင်လယ်ရေမျက်နှာပြင်အထက်အမြင့် ၉၉.၁၈′ ရှိ (၆)ထပ် ၉လုံး၊ စုစုပေါင်း (၃၃)လုံးအား ရှေ့ဘက်တွင် ၁၉′-၈″/၅၀′-၁၀″ ၊ နောက်ဘက်တွင် ၇၅′-၁″/၈၉′-၁″ ၊ ဘေးယာဘက်တွင် ၁၉′-၉″ ၊ ဘေးဝဲဘက်တွင် ၁၉′-၈″ ချန်လုပ်၍ ဆောက်လုပ်မည်ဖြစ်ကြောင်း တွေ့ရှိရပါသည်။ တင်ပြပါ Data များအရ လူနေအိမ်ခန်း

(၁၇၀၀)ခန်း၊ Commercial Area = ၈၇၂၅၇.၆၄ $ft^2$ ပါရှိပြီး အဆောက်အဦ၏ စုစုပေါင်းကြမ်းခင်းဧရိယာနှင့် ၎င်းမြေကွက်၏ အချိုးဖြစ်သည့် Floor Area Ratio ၅.၄၃ ၊ မြေအသုံးချမှုဧရိယာဖြစ်သည့် Building Coverage Ratio ၀.၃၁ ခန့်ဖြင့် တည်ဆောက်မည့်ပုံစံဖြင့် တင်ပြထားပါသည်။

၄။ အဆိုပြုနေရာသည် ရွှေတိဂုံဘုရားကန့်သတ်ဧရိယာပြင်ပတွင် ကျရောက်လျက်ရှိပြီး အမြင့်ဆုံးအဆောက်အဦများ၏ ပင်လယ်ရေမျက်နှာပြင်အထက်အမြင့်ပေ ၃၆၅.၈၁'ခန့်ရှိသဖြင့် အမြင့်ပေ ကိုက်ညီမှုရှိပါသည်။ ကားထားရမည့်သတ်မှတ်ချက်အရ ကားစီးရေ ၂၁၂၂ စီးလိုအပ်ပြီး တင်ပြထားသည့် ကားစီးရေမှာ ၂၁၂၂ စီးဖြစ်ပါသဖြင့် သတ်မှတ်ချက်များနှင့် ကိုက်ညီမှုရှိပါသည်။

၅။ သို့ဖြစ်ပါ၍ အဆိုပြုအဆောက်အဦသည် စည်ပင်သာယာ By Law များနှင့်ကိုက်ညီမှုရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

ညဏ်လင်း
၁၂.၁၁.၂၀၁၅

ဥက္ကဋ္ဌ ( ကိုယ်စား )
( ဉာဏ်လင်းစိုး၊ ရုံးအဖွဲ့မှူး )

မိတ္တူကို

တိုင်းဒေသကြီးအစိုးရအဖွဲ့၊ ရန်ကုန်တိုင်းဒေသကြီး
မျှောစာတွဲ
ရုံးလက်ခံ

နောက်ဆက်တွဲ-င

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

အထပ်မြင့်အဆောက်အအုံတည်ဆောက်ရေးစီမံကိန်းများကြီးကြပ်စစ်ဆေးရေးပညာရှင်အဖွဲ့

အမှတ် ၂၂၈-၂၃၄ ဗိုလ်ချုပ်အောင်ဆန်းလမ်း

**Ph /Fax : 01-245670 / 09-731-89038**

စာအမှတ် O- ၇၅၁ / CQHP / ၂၀၁၅

ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ နိုဝင်ဘာလ ( ၂ )ရက်

သို့

အတွင်းရေးမှူး

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

**အကြောင်းအရာ။** **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ။**

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏(၈.၁၀.၂၀၁၅)ရက်စွဲပါစာအမှတ်၊ရက-၄/န-၀၀၉/၂၀၁၅(၇၈၅)။

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းချက်ပါစာဖြင့်မြန်မာနိုင်ငံ Southern Metal Industry Co., Ltd. မှ ၄၃% နှင့် စင်ကာပူနိုင်ငံ Uni Global Power Investments Pte Ltd. မှ ၅၇% အချိုးထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Southern Metal Industry Real Estate Development Co., Ltd. တည်ထောင်ကာ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ဘုရင့်နောင်တံတားနှင့် အောင်ဇေယျတံတားကြား၊ မြေတိုင်းရပ်ကွက်အမှတ်(၇/က)၊ မြေကွက်အမှတ်(၂)ရှိ စုစုပေါင်း မြေ(၃၀.၉၀၇) ဧကအနက် ဧရိယာ(၁၀.၀၀)ဧကတွင် Construction & Development of Commercial and Residential တည်ဆောက်၍ အခန်းများငှားရမ်းခြင်းလုပ်ငန်းနှင့်ပတ်သက်၍ အထပ်မြင့်အဆောက်အအုံတည်ဆောက်ရေးစီမံကိန်းများ ကြီးကြပ်စစ်ဆေးရေးပညာရှင်အဖွဲ့သို့ သဘောထားမှတ်ချက် တောင်းခံခဲ့ပါသည်။

၂။ ၎င်းကိစ္စနှင့်ပတ်သက်၍ ဤအဖွဲ့၏ စိစစ်တွေ့ရှိချက်ကို ပူးတွဲပေးပို့အပ်ပါ သည်။

(ဥက္ကဋ္ဌကိုယ်စား)

(မြင့်သိန်း-အတွင်းရေးမှူး)

အထပ်မြင့်အဆောက်အအုံတည်ဆောက်ရေး

စီမံကိန်းများကြီးကြပ်စစ်ဆေးရေးပညာရှင်အဖွဲ့

CQHP

မိတ္တူကို-

၁။ Southern Metal Industry CO., Ltd (၀၉ ၅၀၁၆၄၄၈) ထံ သိရှိနိုင်ပါရန် ပေးပို့ပါသည်။

၂။ ရုံးလက်ခံ။

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

အထပ်မြင့်အဆောက်အအုံတည်ဆောက်ရေးစီမံကိန်းများကြီးကြပ်စစ်ဆေးရေးပညာရှင်အဖွဲ့

အမှတ် ၂၂၈–၂၃၄ ဗိုလ်ချုပ်အောင်ဆန်းလမ်း

**Ph /Fax : 01-245670 / 09-731-89038**

**Southern Metal Industry Real Estate Development Co., Ltd. ၏ Construction & Development of Commercial and Residential အပေါ် စိစစ်တွေ့ရှိချက်**

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းချက်ပါစာဖြင့်မြန်မာနိုင်ငံ Southern Metal Industry Co., Ltd. မှ ၄၃ % နှင့် စင်ကာပူနိုင်ငံ Uni Global Power Investments Pte Ltd. မှ ၅၇ % အချိုးထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Southern Metal Industry Real Estate Development Co., Ltd. တည်ထောင်ကာ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ဘုရင့်နောင်တံတားနှင့် အောင်ဇေယျတံတားကြား၊ မြေတိုင်းရပ်ကွက်အမှတ်(၇/က)၊ မြေကွက်အမှတ်(၂)ရှိ စုစုပေါင်း မြေ (၃၀.၉၀၇) ဧကအနက် ဧရိယာ(၁၀.၀၀)ဧကတွင် Construction & Development of Commercial and Residential တည်ဆောက်ရန် ဖြစ်ပါသည်။

၂။ တည်ဆောက်မည့်အဆောက်အအုံအမျိုးအစားမှာ Residential Buildings (32nd Floor Storeyed = 9 Unites, 8th Floor Storeyed = 15 Units, 6th Floor Storeyed = 9 Units, Commercial Area = 4333.9 Sq.m, Duplex Shop Area = 3772.6 Sq.m, Residential Area = 183519 Sq.m) တို့ဖြင့် ဖွဲ့စည်းတည်ဆောက်ထားကြောင်း သုံးသပ်တွေ့ရှိရပါသည်။

၃။ ပဏာမဗိသုကာ Conceptual ပုံစံများအရ Floor Area Ratio = 4.77, Building Coverage Ratio = 31% နှင့် Population Density မှာ တစ်ဧကလျှင် ၅၀၅ ဦးဖြစ်ကြောင်း တွေ့ရှိရပါသည်။ ထို့ပြင် Green Area = 36% နှင့် Disable Person များအတွက် Accessible Elevator နှင့် Accessibility Ramps စသည်တို့ကို ထည့်သွင်းစဉ်းစားထားကြောင်း တွေ့ရှိရပါသည်။

၄။ အဆောက်အအုံအမြင့်သတ်မှတ်ချက်နှင့်ပတ်သက်၍ ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီမှ သတ်မှတ်ထားသော Road Building Ratio နှင့် Set Back နှင့်အညီ ဆောင်ရွက်ရန် လိုမည်ဖြစ်ပါသည်။

၅။ အထက်ဖော်ပြပါ သုံးသပ်တွေ့ရှိချက်သည် ဗိသုကာပိုင်းဆိုင်ရာ သဘောထားမှတ်ချက်သာ ဖြစ်ပါသည်။

၆။ YCDC နှင့် HIC တို့မှ လုပ်ထုံးလုပ်နည်းနှင့်အညီ ခွင့်ပြုချက်ရရှိရေးအတွက် ဆက်လက်ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါသည်။

မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း
**MYANMAR ENGINEERING SOCIETY**
Hlaing Universities' Campus, Hlaing Township, Yangon, Myanmar
Tel : 95-1-519673 ~ 76, Fax : 95-1-519681
E-mail:mes@mptmail.net.mm, Website: www.mes.org.mm

8/12

112 သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ် ၊ မအသ / MIC / ၁၆၂၈ / ၂၀၁၅။
ရက်စွဲ ၊ ၂၀၁၅ ခုနှစ်၊ ဒီဇင်ဘာလ ( ၇ ) ရက်။

**အကြောင်းအရာ။** **Southern Metal Industry Real Estate Development Co., Ltd ၏ Construction and Development of Commercial and Residential တည်ဆောက်၍ အခန်းများ ငှားရမ်းခြင်း လုပ်ငန်းနှင့် စပ်လျဉ်း၍ သဘောထားမှတ်ချက် တောင်းခံထားသည့် ကိစ္စ။**

ရည်ညွှန်းချက်။ (၁)မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၅ ခုနှစ်၊ အောက်တိုဘာလ (၈)ရက် နေ့စွဲပါ စာအမှတ် ရက–၄/န–၀၀၉/ ၂၀၁၅(၇၈၇)။
(၂)မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၅ ခုနှစ်၊ နိုဝင်ဘာလ (၂၄)ရက် နေ့စွဲပါ စာအမှတ် ရက–၄/န–၀၀၉/ ၂၀၁၅(၉၂၆)။

၁။ အထက်ဖော်ပြပါ အကြောင်းအရာကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းသို့ သက်ဆိုင်ရာ Southern Metal Industry Real Estate Development Co., Ltd မှ ၂၀၁၅ ခုနှစ်၊ အောက်တိုဘာလ (၈)ရက်စွဲဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ဘုရင့်နောင်လမ်းမနှင့် အောင်ဇေယျလမ်းကြား၊ မြေတိုင်းရပ်ကွက်အမှတ် (၇ /က)၊ မြေကွက်အမှတ် (၂)ရှိ စုစုပေါင်းမြေ (၃၀.၉၀၇)ဧကအနက် ဧရိယာ (၁၀.၀၀)ဧကတွင် Construction and Development of Commercial and Residential တည်ဆောက်၍ အခန်းများ ငှားရမ်းခြင်းလုပ်ငန်း ဆောက်ရွက်ရန် အဆောက်အဦနှင့် ပတ်သက်သော ပုံစံများနှင့် အသေးစိတ်ဇယားများကို လိုအပ်သော လမ်းညွှန်ချက်များ ပေးပါရန် တင်ပြခဲ့ပါသည်။

၂။ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းတွင် ဖွဲ့စည်းထားသော MIC Projects Assessment Committee မှ ယင်းကိစ္စနှင့် ပတ်သက်၍ (၁၀.၁၀.၂၀၁၅)ရက်နေ့မှ (၃.၁၂.၂၀၁၅) ရက်နေ့အထိ အဆောက်အဦအတွက်အသုံးပြုမည့် ဆောက်လုပ်ရေးပစ္စည်းများကို စိစစ် သုံးသပ်ခဲ့ပါသည်။

၃။ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း၊ MIC Projects Assessment Committee အနေဖြင့် ရန်ကုန်တွင် တည်ဆောက်မည့် ဆောက်လုပ်ရေး လုပ်ငန်းသုံး Construction and Development of Commercial and Residential တည်ဆောက်၍ အခန်းများ ငှားရမ်းခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် သတ်မှတ်ထားသော စံချိန်စံညွှန်း များနှင့်အညီ တည်ဆောက်ရန် နှင့် စံချိန်စံညွှန်းမီ တည်ဆောက်ရေးပစ္စည်းများ အသုံးပြု၍ တည်ဆောက်ပါက ကန့်ကွက်ရန်မရှိပါကြောင်း တင်ပြအပ်ပါသည်။

၄။ အဆောက်အဦပိုင်းတွင် အဓိကဆောက်လုပ်ရေးပစ္စည်းဖြစ်သော Cement ကို ပြည်ပမှ တင်သွင်းခြင်းမပြုဘဲ ပြည်တွင်းမှသာ ဝယ်ယူ၍ဆောက်လုပ်မည်ဖြစ်ကြောင်း တင်ပြအပ်ပါသည်။

၅။ အဆောက်အဦပိုင်းတွင် ပြည်ပမှတင်သွင်းမည့် ဆောက်လုပ်ရေးပစ္စည်းများနှင့် အရေအတွက်ကို ပူးတွဲ(၁)ပါဇယားဖြင့် ထောက်ခံတင်ပြအပ်ပါသည်။

၆။ Southern Metal Industry Real Estate Development Co., Ltd မှ (၃၀.၁၁.၂၀၁၅)ရက်စွဲပါ စာဖြင့် Imported List တွင် ပါဝင်သည့် ပစ္စည်းအချို့ကို မတင်သွင်းတော့ပါကြောင်းတင်ပြလာသဖြင့် ၎င်းစာကို ပူးတွဲ(၂)ဖြင့် တင်ပြအပ်ပါသည်။

၇။ Southern Metal Industry Real Estate Development Co., Ltd ၏ Riverview Project သည် လှိုင်မြစ်ကမ်းနဘေးတွင် တည်ရှိသဖြင့် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်ထံမှ ပူးတွဲ(၁)ပါ ညွှန်ကြားချက်များနှင့်အညီ တည်ဆောက်မည်ဆိုပါက ကန့်ကွက်ရန်မရှိပါကြောင်း တင်ပြအပ်ပါသည်။

၈။ အဆောက်အဦ၏ Electrical, Water & Sanitation နှင့် Air-Con System ကို စိစစ်ခဲ့ရာ လက်ခံနိုင်ကြောင်း တင်ပြအပ်ပါသည်။

မှတ်ချက်။ ။(၁) ယခုတင်ပြသော စီမံကိန်းစိစစ်ရာတွင် တင်ပြသော ပုံစံဒီဇိုင်းများသည် အမှန်တကယ်အသေးစိတ် တည်ဆောက်မည့် ပုံစံဒီဇိုင်းများနှင့် ကွဲလွဲမှုရှိမည်ဆိုပါက ယခုတွက်ချက်ထားသောပစ္စည်းအရေအတွက်များမှာ အမှန်တကယ်သုံးစွဲမည့်အရေအတွက်နှင့် ကွာခြားနိုင်ပါသည်။ သို့အတွက် လိုအပ်ပါက Detail Drawings မှ တွက်ချက်ထားသော Detail Estimate ရရှိပြီးသည့်အခါတွင် ပြန်လည်စိစစ်မှုများဆောင်ရွက်ရန် လိုအပ်ပါသည်။ (Subject to Check)

(၂) သက်ဆိုင်ရာမီးသတ်ဦးစီးဌာနမှ ချမှတ်ထားသော လမ်းညွှန်ချက်များအတိုင်းလိုက်နာဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန်မရှိပါကြောင်း တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

(ဝင်းခိုင်)
ဥက္ကဋ္ဌ
မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း

မိတ္တူကို - Managing Director, Southern Metal Industry Real Estate Development Co., Ltd.
- ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
- အတွင်းရေးမှူး၊ MIC Projects Assessment Committee
- ရုံးလက်ခံ / မျှောစာတွဲ

MIC Projects Assessment Committee
Myanmar Engineering Society

| No | Particular | Unit | MIC စာအုပ်ပါ အရေအတွက် | BQ တွင်ပါဝင်သော အရေအတွက် | ထောက်ခံတင်ပြသော အရေအတွက် |
|---|---|---|---|---|---|
| 1 | Rebar | Ton | 27,600 | 38,692 | 23,102 |
| 2 | Structural steel | Ton | 2,055 | 15,156 | 2,055 |
| 3 | Template | Sheet | 140,000 | 140,083 | 51,727 |
| 4 | Scaffolding Steel Pipe | Ton | 1,800 | 1,803.3 | 1,800 |
| 5 | Emulsion Paint | Gal | 43,452 | 105,864 | 43,452 |
| 6 | Antirust Paint | L | 3,500 | 3,596.4 | 708 |
| 7 | Anticorrosive Paint | L | 2,600 | 2,633.4 | 2,025 |
| 8 | Glass | $m^2$ | 20,000 | 20,000 | 20,000 |
| 9 | Parquet | $m^2$ | 52,000 | 55,055.7 | 52,000 |
| 10 | Tile | $m^2$ | 188,000 | 116,332 | 116,332 |
| 11 | Aluminium Alloy Window | $m^2$ | 27,216 | 84,445 | 27,216 |
| 12 | High Quality Wood Door | Unit | 5,172 | 8,404 | 5,172 |
| 13 | Bending Machine | Unit | 4 | | 3 |
| 14 | Steel Bar Straightening Machine | Unit | 4 | | 3 |
| 15 | Steel Bar Cutting Machine | Unit | 4 | | 3 |
| 16 | Welding Machine | Unit | 20 | | 15 |
| 17 | Air Compressor | Unit | 10 | | 8 |
| 18 | Intercom | Unit | 80 | | 70 |

MIC Projects Assessment Committee
Myanmar Engineering Society

ပို့ဆောင်ရေးဝန်ကြီးဌာန

**မြန်မာ့ဆိပ်ကမ်းအာဏာပိုင်**

No. 10, Pansodan Street, Yangon, Myanmar. Tel: (95-1) 379141, 246375, 387116 Fax: (95-1) 391355, 384737.
P.O. Box. No. 1, Email: mpa@mptmail.net.mm, http://www.mpa.gov.mm

စာအမှတ်၊ ဆက/ မြို့ပြ/ Riverview / ၁၄၃၄ / ၂၀၁၅
ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ အောက်တိုဘာ လ ၈ ရက်

အကြောင်းအရာ။ **Riverview Project အတွက် မြေထိန်းနံရံနှင့် အထပ်မြင့် အဆောက်အဦများ ဆောက်လုပ်ခွင့်ပြုနိုင်ပါရန် တင်ပြလာခြင်းကိစ္စ။**

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ FMI Garden Development Ltd မှ ဘုရင့်နောင်တံတားအထက်ဘက်နေရာ ပန်းလှိုင်ဂေါက်ကွင်းအိမ်ရာစီမံကိန်း ဧရိယာတွင်လည်းကောင်း၊ Southern Metal Industry Co.,Ltd မှ ဘုရင့်နောင်တံတားနှင့် အောင်ဇေယျာတံတားကြား စီမံကိန်း ဧရိယာတွင်လည်းကောင်း မြစ်ကမ်းပါးရေတိုက်စားမှုမှ ကာကွယ်ရန်အတွက် လှိုင်မြစ်ကမ်းတလျှောက် တွင် မြေထိန်းနံရံတည်ဆောက်ခြင်းနှင့် အထပ်မြင့်အဆောက်အဦများကို အကောင်အထည်ဖော် ဆောင်ရွက်မည်ဖြစ်ရာ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ သတ်မှတ်ထားသည့် ကမ်းထိန်းနံရံမှ ကိုက်(၅၀) တွင်း အလွယ်တကူ ရွှေ့ပြောင်းနိုင်သည့် အဆောက်အဦငယ်များကိုသာ ဆောက်လုပ်ရန် ညွှန်ကြား ခဲ့ပါသည်။ ကုမ္ပဏီများမှ မြေထိန်းနံရံ နှင့် အထပ်မြင့်အဆောက်အဦများကို International Standard နှင့်အညီ စနစ်တကျတည်ဆောက်သွားမည်ဖြစ်ပြီး၊ မြေထိန်းနံရံနှင့် အဆောက်အဦများ၏ Foundation ကိုလည်း Bore Pile များဖြင့် ခိုင်မာစွာတည်ဆောက်သွားမည်ဖြစ်ပါသဖြင့် အဆောက်အဦများကို မြစ်ကမ်းပါးမှ (၁၅) ကိုက်အတွင်း စနစ်တကျ တည်ဆောက်ခွင့်ပြုပေးနိုင်ပါရန် ဖော်ပြပါ ကုမ္ပဏီများမှ အသီးသီးတင်ပြလာပါသည်။

၂။ ထို့ကြောင့် ၃-၇-၂၀၁၅ ရက်နေ့တွင် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ FMI Garden Development Ltd နှင့် Southern Metal Industry (SMI) Co.,Ltd တို့မှ တာဝန်ရှိသူများအား ခေါ်ယူတွေ့ဆုံဆွေးနွေးခဲ့ရာတွင် FMI နှင့် SMI ကုမ္ပဏီ၏ တာဝန်ရှိသူများက မြန်မာ့ဆိပ်ကမ်း အာဏာပိုင်မှ ဆွေးနွေးညွှန်ကြားချက်အတိုင်း လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိပြု ခဲ့သဖြင့် အထပ်မြင့်အဆောက်အဦများကို မြေထိန်းနံရံမှ မူလက (၅၀)ကိုက်အစား အနည်းဆုံး (၂၅) ကိုက်အတွင်း ဆောက်လုပ်ခြင်းမပြုရန်နှင့် အလွယ်တကူရွှေ့ပြောင်းနိုင်သည့် အဆောက်အဦငယ်များ ကိုသာဆောက်လုပ်ရန် ခွင့်ပြုသွားမည်ဖြစ်ပါကြောင်း ဆွေးနွေးညှိနှိုင်းခဲ့မှုအား ပို့ဆောင်ရေးဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီအစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၃။ အဆိုပါကိစ္စနှင့်ပတ်သက်၍ ၂၆-၉-၂၀၁၅ ရက်နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် ပို့ဆောင်ရေး ဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီအစည်းအဝေး အမှတ်စဉ်(၁၆/၂၀၁၅) မှ FMI Garden Development Ltd နှင့် Southern Metal Industry (SMI) Co.,Ltd တို့၏ Riverview Project

အတွက် မြေထိန်းနံရံနှင့် အထပ်မြင့်အဆောက်အဦများကို မြန်မာ့ဆိပ်ကမ်းအာဏာပိုင်၏ လမ်းညွှန်ချက်အတိုင်း လိုက်နာဆောင်ရွက်ရန်နှင့် အထပ်မြင့် အဆောက်အဦများကို မြေထိန်းနံရံမှ အနည်းဆုံး (၂၅)ကိုက်အတွင်း ဆောက်လုပ်ခြင်းမပြုရန် သဘောတူဆုံးဖြတ်ခဲ့ပါသည်။

၄။ သို့ဖြစ်ပါ၍ FMI Garden Development Ltd နှင့် Southern Metal Industry (SMI) Co.,Ltd တို့မှ Riverview Project အတွက် မြေထိန်းနံရံနှင့် အထပ်မြင့်အဆောက်အဦများကို အကောင်အထည်ဖော်ဆောင်ရွက်ရာတွင် အောက်ပါအတိုင်း လိုက်နာဆောင်ရွက်ရမည်ဖြစ်ပါသည်-

(က) အထပ်မြင့် အဆောက်အဦနှင့် မြေထိန်းနံရံတို့အား နိုင်ငံတကာစံချိန်စံညွှန်းများနှင့် အညီ ရေးဆွဲထားသည့် ခေတ်မီဒီဇိုင်းများဖြင့် ဆောက်လုပ်ရန်၊

(ခ) အထပ်မြင့် အဆောက်အဦနှင့် မြေထိန်းနံရံတို့၏ Foundation ကို Bore Pile များဖြင့် Structure ခိုင်ခံ့မှုအတွက် အထူးစီမံဆောင်ရွက်ကြရန်၊

(ဂ) အထပ်မြင့် အဆောက်အဦများကို မြေထိန်းနံရံမှ အနည်းဆုံး (၂၅)ကိုက် အတွင်း ဆောက်လုပ်ခြင်း မပြုရန်။

ဦးဆောင်ညွှန်ကြားရေးမှူး(ကိုယ်စား)
(မြသန်း၊ မြို့ပြအင်ဂျင်နီယာချုပ်)

မန်နေဂျင်းဒါရိုက်တာ
FMI Garden Development Ltd
မန်နေဂျင်းဒါရိုက်တာ
Southern Metal Industry Co.,Ltd

THE REPUBLIC OF THE UNION OF MYANMAR

Myanmar Investment Commission

# PERMIT

Permit No. / 2016 Date , January 2016

This Permit is issued by the Myanmar Investment Commission according to the section 13, sub-section (b) of the Republic of the Union of Myanmar Foreign Investment Law-

(a) Name of Investor/Promoter Mr. Zhu Xiaolin

(b) Citizenship China Chinese

(c) Address 2-7-301, Yindu Garden, No.(8), Xinguang Road, Chengdu, Sichuan Province, China

(d) Name and Address of Principal Organization Uni Global Power Investment Pte., Ltd. , 3 Shenton Way, # 25-05, Shenton House, Singapore 068805

(e) Place of Incorporation Republic of Singapore

(f) Type of Investment Business Construction and Development of Commercial and Residential Buildings on the Land , Marketing, Promotion, Transfer, Lease of the Commercial and Residential Units

(g) Place(s) at which Investment is permitted Plot No. (2), Land Block No.(7/a), AREA (10)Acres , At Between Bayint Naung Bridge and Aung Zaya Bridge , Hlaing Thar Yar Township , Yangon Region

(h) Amount of Foreign Capital US$ 76.95 Million

(i) Period for Foreign Capital brought in Within Four Years From The Date of Issuance of MIC Permit

(j) Total amount of capital (Kyat) Equivalent in Kyat of US$ 135.00 Million (Including US$ 76.95 Million )

(k) Construction period 4 Years

(l) Validity of investment permit 50 Years + 10 year + 10 year

(m) Form of investment Joint Venture

(n) Name of Company incorporated in Myanmar Southern Metal Industry Real Estate Development Company Limited

Chairman

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
# ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် ........../၂၀၁၆                    ၂၀၁၆ ခုနှစ်၊ ဇန်နဝါရီ လ      ရက်

ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၃ ပုဒ်မခွဲ (ခ)အရ ဤ ခွင့်ပြုမိန့်ကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်က ထုတ်ပေးလိုက်သည် -

(က) **ရင်းနှီးမြှုပ်နှံသူ/ကမကထပြုသူ၏အမည်** Mr. Zhu Xiaolin

(ခ) **နိုင်ငံသား** China တရုတ်

(ဂ) **နေရပ်လိပ်စာ** 2-7-301, Yindu Garden, No.(8), Xinguang Road, Chengdu, Sichuan Province, China

(ဃ) **ပင်မအဖွဲ့အစည်းအမည်နှင့်လိပ်စာ** Uni Global Power Investment Pte., Ltd. 3 Shenton Way, # 25-05, Shenton House, Singapore 068805

(င) **ဖွဲ့စည်းရာအရပ်** Republic of Singapore

(စ) **ရင်းနှီးမြှုပ်နှံသည့်လုပ်ငန်းအမျိုးအစား** Construction and Development of Commercial and Residential Buildings on the Land , Marketing, Promotion, Transfer, Lease of the Commercial and Residential Units

(ဆ) **ရင်းနှီးမြှုပ်နှံသည့်အရပ်ဒေသ(များ)** မြေတိုင်း ရပ်ကွက် အမှတ် (၇/က)၊ မြေကွက် အမှတ်(၂)၊ ဘုရင့်နောင်တံတားနှင့် အောင်ဇေယျတံတားကြား၊ လှိုင်သာယာမြို့နယ် ရန်ကုန်တိုင်းဒေသကြီးရှိ စုစုပေါင်း မြေ(၃၀.၉၀၇)ဧက အနက် ဧရိယာ (၁၀.၀၀)ဧက

(ဇ) **နိုင်ငံခြားမတည်ငွေရင်း ပမာဏ** အမေရိကန်ဒေါ်လာ ၇၆.၉၅ သန်း

(ဈ) **နိုင်ငံခြားမတည်ငွေရင်းယူဆောင်လာရမည့်ကာလ** ကော်မရှင် ခွင့်ပြုမိန့် ရရှိပြီး (၄)နှစ် အတွင်း

(ည) **စုစုပေါင်း မတည်ငွေရင်းပမာဏ(ကျပ်)** အမေရိကန်ဒေါ်လာ ၁၃၅.၀၀ သန်း နှင့် ညီမျှသော မြန်မာကျပ်ငွေ (အမေရိကန်ဒေါ်လာ ၇၆.၉၅ သန်း အပါအဝင်)

(ဋ) **တည်ဆောက်မှုကာလ** ၄ နှစ်

(ဌ) **ရင်းနှီးမြှုပ်နှံခွင့်ပြုသည့် သက်တမ်း** ကနဦး ၅၀ နှစ် + ၁၀ နှစ် + ၁၀ နှစ်

(ဍ) **ရင်းနှီးမြှုပ်နှံမှုပုံစံ** ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု

(ဎ) **မြန်မာနိုင်ငံတွင် ဖွဲ့စည်းမည့် စီးပွားရေးအဖွဲ့အစည်းအမည်** Southern Metal Industry Real Estate Development Company Limited

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

THE REPUBLIC OF THE UNION OF MYANMAR

**MYANMAR INVESTMENT COMMISSION**

**No.1,Thitsar Road, Yankin To wnship, Yangon**

Our ref : DICA-4/FI-009/2016( ) Tel : 01-65812

Date : January 2016 Fax: 01-65813

**Subject:** **Decision of the Myanmar Investment Commission on th proposal for "Construction and Development of Commercial an Residential Buildings on the Land, Marketing, Promotio Transfer, Lease of the Commercial and Residential Units " unde the name of Southern Metal Industry Real Estate Developme Co., Ltd.**

Reference: Southern Metal Industry Real Estate Development Co., Ltd. date 1-10-2015

1. The Myanmar Investment Commission, at its meeting (23/2015) held o 28rd December, 2015 had approved the proposal for investment in "Constructio and Development of Commercial and Residential Buildings on the Land, Marketin Promotion, Transfer, Lease of the Commercial and Residential Units" under the nam of Southern Metal Industry Real Estate Development Co., Ltd. submitted as a join venture between Uni Global Power Investments Pte., Ltd. of Republic of Singapor (57%) and Southern Metal Industry Co., Ltd. (43%) of Republic of Myanmar.

2. Hence, the "Permit" is herewith issued in accordance with Chapter VI section 13(b)of the Foreign Investment Law and Chapter VIII, Rule 49 of th Foreign Investment Rules relating to the Foreign Investment Law. Terms an conditions to the "Permit" are stated in the following paragraphs.

3. The permitted duration of the project shall be initial 50(fifty) years an extendable for 10(ten)years in 2(two)time from the date of the signing of th Lease Agreement for land between Southern Metal Industry Co., Ltd. an Southern Metal Industry Real Estate Development Co., Ltd. Upon the expiry of th lease Agreement, the lessee shall vacate and transfer the leased properties togethe with the building in good condition.

4. The annual lease rate shall be US$ 214,438 (United States Dollar Tw hundred and fourteen thousand and four hundred and thirty eight only) calculated a the rate of US$ 5.3 per square metre per the initial term for land.

5. In issuing this "Permit," the Commission has granted, the following exemptions and reliefs as per Chapter XII, section 27(a) and (h) of the Foreig Investment Law. Other exemptions and reliefs under section 27 shall have to b applied upon the actual performance of the project;

(a) As per section-27(a), income tax exemption for a period of fiv consecutive years including the year of commencement on commercia operation;

(b) As per section-27(h), exemption or relief from customs duty or othe internal taxes or both on machineries, equipment, instrument machinery components, spare parts and materials used in the busines which are imported as they are actually required for used during th period of construction of business;

6. Southern Metal Industry Real Estate Development Co., Ltd. shall have to sig the Lease Agreement for land with Southern Metal Industry Co., Ltd. Moreove Joint Venture Agreement shall have to sign between Southern Metal Industry Rea Estate Development Co., Ltd. and Uni Global Power Investments Pte., Ltd. Afte signing such Agreements, each of (5) copies shall have to be forwarded to th Commission.

7. Southern Metal Industry Real Estate Development Co., Ltd in consultatio with the Department of Company Registration, Directorate of Investment an Company Administration shall have to be registered. After registration, (5) copie each of Certificate of Incorporation and Memorandum of Association an Articles of Association shall have to be forwarded to the Commission.

8. Southern Metal Industry Real Estate Development Co., Ltd shall use its bes efforts for timely realization of works stated in the proposal. If none of suc works has been commenced within one year from the date of issue of thi "Permit", it shall become null and void.

9. Southern Metal Industry Real Estate Development Co., Ltd has to abide b Chapter X, Rule 58 and 59 of the Foreign Investment Rules for constructio period.

10. As per Chapter X, Rule 61 of the Foreign Investment Rules, extension o construction period shall not be allowed more than twice except the conditions o force majeure such as natural disaster, instabilities, riots, strikes, a State of emergency armed opposition, rebellion and outbreak of wars.

11. As per Chapter X, Rule 63 of the Foreign Investment Rules, if Southern Meta Industry Real Estate Development Co., Ltd. cannot construct completely in time the

construction period or extension period, the Commission will have to withdraw th
permit issued to the investor and there is no refund for the expenses of the project.

12. The opening date of the Construction and Development of Commercial ar Residential Buildings on the Land, Marketing, Promotion, Transfer, Lease of th Commercial and Residential Units shall be reported to the Myanmar Investmer Commission.

13. The Commission approves periodical appointments of foreign experts an technicians from abroad as per proposal and also in accordance with Chapter X section 24 and section 25 of the Myanmar Foreign Investment Law and Souther Metal Industry Real Estate Development Co., Ltd. has to follow the exisitin Labour Laws for the recruitment of staff and labour in accordance with Chapte XIII, Rule 84 of the Foreign Investment Rules.

14. In order to evaluate foreign capital and for the purpose of its registration i accordance with the provisions under Chapter XV, section 37 of the Myanma Foreign Investment Law, it is compulsory to report as early as possible in th following manner:-

(a) the amount of foreign currency brought into Myanmar, attached wit the necessary documents issued by the respective bank where th account is opened and defined under Chapter XVI, Rules 134 and 13 of the Foreign Investment Rules;

(b) the detailed lists of the type and value of foreign capital defined unde Chapter I, section-2 (i) of the Foreign Investment Law, other tha foreign currency.

15. Southern Metal Industry Real Estate Development Co., Ltd. brings in foreig capital defined under Chapter I, section-2(i) of the Foreign Investment Lav other than foreign currency in the manner of paragraph 14(b) mentioned above the Inspection Certificate endorsed and issued by an internationally recognize Inspection Firm with regard to quantity, quality and price of imported material shall have to be attached.

16. Southern Metal Industry Real Estate Development Co., Ltd. has the right t make account transfer and expend the foreign currency from his bank account i accordance with Chapter XVI, Rule 136 of the Foreign Investment Rules an for account transfer of local currency generated from the business to the loca currency account opened at the bank by a citizen or a citizen-owned business i the Union and right to transfer back the equivalent amount of foreign currency from the foreign currency bank account of citizen or citizen-owned business by

submitting the sufficient documents in accordance with Chapter XVII, Rule14 of the Foreign Investment Rules.

17. Southern Metal Industry Real Estate Development Co., Ltd. shall report to th Commission for any alteration in the physical and financial plan of the projec Cost over run, over and above the investment amount pledged in both local an foreign currency shall have to be reported as early as possible.

18. For the construction and operation of the project, Southern Metal Industr Real Estate Development Co., Ltd is required to get the permission for buildings wit the comments from concerned organization by submitting detailed design i accordance with the codes, specifications and regulations that are applied in th Republic of the Union of Myanmar and to submit the final detail Design of the Proje to the Yangon City Development Committee (YCDC).

19. Southern Metal Industry Real Estate Development Co., Ltd. shall b responsible for the preservation of the environment at and around the area of th project site. In addition to this, Southern Metal Industry Real Estate Developme Co., Ltd shall carry out as per instructions made by Ministry of Environmenta Conservation and Forestry in which to conduct and report the Environmena Impact Assessment(EIA) and before the implementation of the proposed projec and to submit the Environmental Management Plan (EMP) which describe th measure to be taken for preventing, mitigation and monitoring significan environmental impacts resulting from the implementation and operation o proposed project or business or activity has to be prepared and submitted and t perform activities in accordance with this EMP to abide by the environmenta policy, Environmental Conservation Law and other environmental related rules an regulations meanwhile Southern Metal Industry Real Estate Development Co., Ltd has made a commitment to conduct Environmental Management Plan (EMP) repor through Environment Wunkyin (Environment) Myanmar Cooperative Ltd.

20. Southern Metal Industry Real Estate Development Co., Ltd shall have to abid by the Fire Services Department's rules, regulations, directives and instructions. Fir prevention measures and system for early fire detection to be installed and shall als have to undertake such as water storage tank, fire extinguishers and provide training t use the fire fighting equipment and to appoint safety officer.

21. Payment of principal and interest of the loan shall only be made out of th services income of Southern Metal Industry Real Estate Development Co., Ltd.

